အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် WKG Kossco Co., Ltd. မှ Zinc galvanizing and related business လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br><br><br><br><br>လုပ်ငန်းအမျိုးအစား | - WKG Kossco Co., Ltd.<br>- ဦးမိုးဟိန်း<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>KOSSCO LTD. (ကိုရီးယား) ၃၀%<br>Mr. Ha-Young Choi (ကိုရီးယား) ၃၀%<br>WKG General Trading Co., Ltd. (မြန်မာ) ၄၀%<br>- Zinc galvanizing and related business |
| ၂။ | တည်နေရာ | - အမှတ်-၄၇၆၊ မိုးကုတ်လမ်း၊ (၂၃) ရပ်ကွက်၊ ဒဂုံမြို့သစ် (တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်<br><br>မြေအကျယ်အဝန်း<br>အဆောက်အဦအရေအတွက်<br>နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခ<br>မြေ/အဆောက်အဦငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - WKG General Trading Co., Ltd.(စက်မှုဝန်ကြီးဌာနမှ ငှားရမ်းခွင့်ရရှိထားသူ)<br>- ၃.၇၇၅ ဧက အနက်မှ ၁.၀၀ ဧက (၁,၂၅၇.၇၇ စတုရန်းမီတာ)<br>- ၂ လုံး<br>- တစ်နှစ်လျှင် US$ ၁၆,၀၀၀<br><br>- ၁၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၁၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၂ နှစ်<br>- |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - အမေရိကန်ဒေါ်လာ ၁၅.၀၀ သန်း |

| ထည့်ဝင်မည့် အမျိုးအစား | နိုင်ငံခြား US$ (သန်း) | မြန်မာ US$ (သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| ငွေပမာဏ | ၀.၉၂ | ၁.၀၀ | ၁.၉၂ |
| စက်နှင့်စက်ပစ္စည်း | ၈.၀၈ | ၅.၀၀ | ၁၃.၀၈ |
| စုစုပေါင်း | ၉.၀၀ | ၆.၀၀ | ၁၅.၀၀ |

| | | |
|---|---|---|
| ၇။ | ဝန်ဆောင်မှုနှင့်ဈေးနှုန်း:<br><br>Zinc galvanizing services | - ပြည်တွင်း ၁၀၀%<br>**ဝန်ဆောင်မှု အရေအတွက်** — ၇၂၀<br>**ဈေးနှုန်း (ကျပ်/ Ton)** — ၈၀၀,၀၀၀ |
| ၈။ | ဝန်ထမ်းခန့်ထားမှု | **ပြည်တွင်း** / **ပြည်ပ**<br>**ဦးရေ** ၄၈ ဦး / -<br>**အမြင့်ဆုံးလစာ** ကျပ် ၁၀,၀၀၀,၀၀၀ / -<br>**အနိမ့်ဆုံးလစာ** ကျပ် ၃၀၀,၀၀၀ / - |
| ၉။ | အခြားတင်ပြချက်များ | - အတည်ပြုလျှောက်ထားလွှာနှင့်အတူ စက်မှုဝန်ကြီးဌာနနှင့် WKG General Trading Co.,Ltd. တို့ချုပ်ဆိုထားသော မြေနှင့်အဆောက်အဦများ ငှားရမ်းစာချုပ်၊ WKG General Trading Co.,Ltd.မှ WKG Kossco Co., Ltd. သို့တစ်ဆင့်ပြန်လည်ငှားရမ်းမည့်စာချုပ် (မူကြမ်း)၊ WKG Kossco Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (မိတ္တူ) ၊ MOA နှင့် AOA ၊ လုပ်ငန်း၏ Layout Plan များ ပူးတွဲတင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် WKG General Trading Co., Ltd. အမည်ဖြင့် CB Bank ၌ ၇-၅-၂၀၁၈ ရက်နေ့တွင် ကျပ် ၄,၂၀၃,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- ကိုရီးယားနိုင်ငံမှ နည်းပညာဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | -ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့်ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။<br>- ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်း လိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။ |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက - ၅(အ)/အ-၀၃၀/၂၀၁၈(၂၇၂)

ရက်စွဲ၊ ၂၀၁၈ခုနှစ်၊ ဩဂုတ် လ ၂၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် WKG Kossco Co., Ltd.မှ Zinc galvanizing and related business လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ကိုရီးယားနိုင်ငံ KOSSCO LTD.မှ(၃၀%)၊ ကိုရီးယားနိုင်ငံ Mr Ha-Young Choi မှ (၃၀%) နှင့် မြန်မာနိုင်ငံ WKG General Trading Co.,Ltd. မှ(၄၀%) ထည့်ဝင်၍ မြန်မာနိုင်ငံတွင် WKG Kossco Co., Ltd. တည်ထောင်ကာ အမှတ်-၄၇၆၊ မိုးကုတ်လမ်း၊ (၂၃) ရပ်ကွက်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၁.၀၀ဧကနှင့် အဆောက်အဦ(၂)လုံးတွင် Zinc galvanizing and related business လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာဖြင့် တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ စက်မှုဝန်ကြီးဌာနနှင့် WKG General Trading Co.,Ltd. တို့ချုပ်ဆိုထားသော မြေနှင့်အဆောက်အဦများ ငှားရမ်းစာချုပ်၊ WKG General Trading Co.,Ltd.မှ WKG Kossco Co., Ltd. သို့တစ်ဆင့်ပြန်လည်ငှားရမ်းမည့်စာချုပ်(မူကြမ်း)၊ WKG Kossco Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (မိတ္တူ) ၊ MOA နှင့် AOA ၊ လုပ်ငန်း၏ Layout Plan များ ပူးတွဲတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၁၀နှစ်၊ စုစုပေါင်းမြေ ၁.၀၀ ဧက နှင့် အဆောက်အဦ (၂) လုံး (၁,၂၅၇.၇၇ စတုရန်းမီတာ) အား ငှားရမ်းမည်ဖြစ်ပြီး နှစ်စဉ်ငှားရမ်းခမှာ US$ ၁၆,၀၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၁၀ နှစ်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ US$ ၁၅.၀၀ သန်းဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **ထည့်ဝင်မည့် အမျိုးအစား** | **နိုင်ငံခြား US$ (သန်း)** | **မြန်မာ US$ (သန်း)** | **စုစုပေါင်း US$( သန်း)** |
|---|---|---|---|
| ငွေပမာဏ | ၀.၉၂ | ၁.၀၀ | ၁.၉၂ |
| စက်နှင့်စက်ပစ္စည်း | ၈.၀၈ | ၅.၀၀ | ၁၃.၀၈ |
| စုစုပေါင်း | **၉.၀၀** | **၆.၀၀** | **၁၅.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၄၈) ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၃၀၀,၀၀၀နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁၀,၀၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အတည်ပြုလုပ်ငန်း Zinc galvanizing and related business ကို ပြည်တွင်းတွင် ၁၀၀% ဝန်ဆောင်မှုပေးမည်ဖြစ်ပါသည်။ ဝန်ဆောင်မှုအရေအတွက်နှင့်ဈေးနှုန်းများမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| **ဝန်ဆောင်မှုအမျိုးအမည်** | **ဝန်ဆောင်မှု အရေအတွက်** | **ဈေးနှုန်း (ကျပ်/Ton)** |
|---|---|---|
| (က) Zinc galvanizing services | ၇၂၀ | ၈၀၀,၀၀၀ |

၈။ အတည်ပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် စက်မှုဝန်ကြီးဌာနဌာနပိုင် မြေအား တစ်ဆင့်ပြန်လည်ငှားရမ်းခြင်းနှင့်စပ်လျဉ်း၍ စက်မှုဝန်ကြီးဌာနသို့ ၃-၇-၂၀၁၈ ရက်နေ့တွင် သဘောထားမှတ်ချက်တောင်းခံခဲ့ရာ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းအနေဖြင့် WKG General Trading Co., Ltd. မှ WKG Kossco Co., Ltd. သို့ တစ်ဆင့်ငှားရမ်းခြင်းစာချုပ် ချုပ်ဆိုနိုင်ရေးအတွက် ကုမ္ပဏီနှင့် ချုပ်ဆိုထားသည် မူလစာချုပ်ကိုပြင်ဆင်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်များအတိုင်း ပြင်ဆင်ချုပ်ဆိုသွား မည်ဖြစ်ပြီး WKG General Trading Co., Ltd. မှတစ်ဆင့် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် အတည်ပြုလုပ်ငန်းဆောင်ရွက်မည့် WKG Kossco Co., Ltd. သို့ ငှားရမ်းခြင်းနှင့် စပ်လျဉ်း၍ စက်မှုဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ**

၉။ ငွေကြေးအထောက်အထားအဖြစ် WKG General Trading Co., Ltd. အမည်ဖြင့် CB Bank၌ ၇-၅-၂၀၁၈ ရက်နေ့တွင် ကျပ် ၄,၂၀၃,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း) အား ဥပဒေနှင့်ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထား ရန် လိုအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် WKG Kossco Co., Ltd. မှ Zinc galvanizing and related business လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



နောက်ဆက်

VPT-2887
6.8.18

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

| | |
|---|---|
| ဝင်စာအမှတ် | M၄-0768 |
| ရက်စွဲ | 7-8-2018 |

စာအမှတ်၊ ၁၅ - စမ ( ၂ ) ၂၀၁၈ ( ၁၃၄၀ )
ရက် စွဲ၊ ၂၀၁၈ ခုနှစ်၊ ဩဂုတ်လ ၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃.၇.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/အ-၀၃၀/ ၂၀၁၈ (၂၂၇)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ကိုရီးယားနိုင်ငံ Kossco Ltd. မှ (၃၀%)၊ ကိုရီးယားနိုင်ငံ Mr Ha-Young Choi မှ (၃၀%)နှင့် မြန်မာနိုင်ငံ WKG General Trading Co.,Ltd. မှ (၄၀%) ထည့်ဝင်ပြီး မြန်မာနိုင်ငံတွင် WKG Kossco Co.,Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ (၂၃)ရပ်ကွက်၊ မိုးကုတ်လမ်း၊ အမှတ်(၄၇၆)ရှိ အဆောက်အဦ (၁၀)လုံးအနက် အဆောက်အဦ(၂)လုံးနှင့် မြေဧရိယာ (၁.၀၀)ဧကအား ငှားရမ်း၍ Zinc galvanizing and related business လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် WKG General Trading Co.,Ltd. မှတစ်ဆင့် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အတည်ပြုလုပ်ငန်း ဆောင်ရွက်မည့် WKG Kossco Co.,Ltd. သို့ ငှားရမ်းခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ WKG General Trading Co.,Ltd. အနေဖြင့် ရင်းနှီးမြှုပ်နှံမှုနှင့် အဆင့်မြင့်နည်းပညာရရှိရေးအတွက် ကိုရီးယားနိုင်ငံ Kossco Ltd.နှင့် ပူးပေါင်းပြီး WKG Kossco Co.,Ltd. အမည်ဖြင့် ဖက်စပ်ကုမ္ပဏီကို ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၏ ခွင့်ပြုချက်ဖြင့် တည်ထောင်ခဲ့ပါသည်။ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းအနေဖြင့် WKG General Trading Co.,Ltd. မှ Kossco Ltd. သို့ တစ်ဆင့်ငှားရမ်းခြင်း စာချုပ် ချုပ်ဆိုနိုင်ရေးအတွက် ကုမ္ပဏီနှင့် ချုပ်ဆိုထားသည့် မူလစာချုပ်ကို ပြင်ဆင်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်များအတိုင်း ပြင်ဆင်ချုပ်ဆိုသွားမည်ဖြစ်ပါသည်။

၃။ သို့ပါ၍ WKG General Trading Co.,Ltd. မှတစ်ဆင့် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အတည်ပြုလုပ်ငန်းဆောင်ရွက်မည့် WKG Kossco Co.,Ltd. သို့ ငှားရမ်းခြင်းနှင့် စပ်လျဉ်း၍ စက်မှုဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ထောက်ခံပေးပို့အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း